



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၇၈ /၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဧပြီ လ ၂၈ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးအောင်မင်းဟန်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၄၊ မြေညီထပ်(ဘီ)၊ မြမာလာလမ်း၊ (၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ Ever Flow River Group of Companies (Public) Limited ၊ အမှတ်-၃၉၊ အလံပြဘုရားလမ်း၊ ယူနိုက်တက်ကွန်ဒို(၁)၊ စတုတ္ထထပ်၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ထောက်ပံ့ပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေတိုင်းရပ်ကွက်အမှတ်-၁၅၊ မြေကွက်အမှတ်-၁/B၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၆၂,၀၀၀.၀၀သန်း (အမေရိကန်ဒေါ်လာ ၃.၁၆၇ သန်း အပါအဝင် စုစုပေါင်းကျပ်သန်း ခြောက်သောင်းနှစ်ထောင်တိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၃ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် Hlaing Inland Terminal and Logistics Company Limited ( လှိုင်အင်(န်)လဲ(န်ဒ်)တာမိနဲ(လ်) အဲန်လော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်)

29.4.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/ခ-၀၁၄/၂၀၁၈ (၁၄၈.ယ)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီ လ ၂၉ ရက်

အကြောင်းအရာ။ **Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်)တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) ၏ ထောက်ပံ့ပို့ဆောင်ရေး၊ ကုန်သေတ္တာ သိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Hlaing Inland Terminal and Logistics Company Limited ၏ ၂၈-၂-၂၀၁၈ ရက်စွဲပါစာ

၁။ Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) မှ မြေတိုင်းရပ်ကွက်အမှတ်-၁၅၊ မြေကွက်အမှတ်-၁/B၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၄၀ ဧက နှင့် ရေဒေသဧရိယာ ၂.၆၇ ဧကတွင် ထောက်ပံ့ပို့ဆောင်ရေး၊ ကုန်သေတ္တာ သိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) အား ထောက်ပံ့ပို့ဆောင်ရေး၊ ကုန်သေတ္တာ သိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၇၈/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်)တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း:(၁၈)

ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်)တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၂) အရ မြေအသုံးပြုခွင့်လျှောက်ထားနိုင်သည်။

(ဂ) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်)တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်** များအဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဃ) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့ တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်)တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် အညီ ဆောင်ရွက်ရမည်။

(စ) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလ

ထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာ အား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဓ) Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့်ပတ်သက်၍ မြေအသုံးချမှုပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာ ဥပဒေနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြသွား ရမည်။

၄။ Hlaing Inland Terminal and Logistics Company Limited (လှိုင်အင်(န်)လဲ(န်ဒ်) တာမိနဲ(လ်)အဲန်လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီး ဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင် ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆို သည်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ် လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

29.4.18

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**Hlaing Inland Terminal and Logistics Company Limited**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန